…ဏီအမည် - Ayeyarwaddy Resort & Villa Development Co., Ltd.

…ပ်ငန်း - **အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂၇-၁၀-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၃/၂၀၁၇ သို့ တင်ပြခြင်း | ၇-၁၁-၂၀၁၇ | | |
| ၃ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ | ၉-၁၁-၂၀၁၇ | | |
| | (ခ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီး ဌာန | ၉-၁၁-၂၀၁၇ | | |
| | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း | ၉-၁၁-၂၀၁၇ | | |
| | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၀-၁၁-၂၀၁၇ | | |
| ၄ | ကော်မတီအစည်းအဝေးသို့တင်ပြခြင်း (၄/၂၀၁၇) ARIC | ၂၁-၁၁-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၂၄ ရက်** | | | |

Ayeyarwaddy Resort & Villa Development Co., Ltd. မှ ရခိုင်နှုန်းပြည့်
မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့် အိမ်ရာစီမံကိန်းလုပ်ငန်းအား
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ
အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍
တင်ပြရန်လိုအပ်သည့်အချက်အလက်များ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင် ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Ayeyarwaddy Resort & Villa Development Co., Ltd. | အဆင့်မြင့် အိမ်ရာ စီမံကိန်း လုပ်ငန်း | ၃/၂၀၁၇ (၇-၁၁-၂၀၁၇) | (က) အိမ်ရာစီမံကိန်းများ နှင့်ပတ်သက်၍ town plan ပြင်ပဖြစ်ပါက ကုမ္ပဏီအနေဖြင့် တိုင်းဒေသကြီး အစိုးရအဖွဲ့သို့ တင်ပြရန်။ တိုင်းဒေသကြီး အစိုးရအဖွဲ့မှ ပြည်ထောင်စုအစိုးရ အဖွဲ့သို့တင်ပြ သဘောထား တောင်းခံရန်။ | ဆောင်ရွက် ဆဲ | |

ကန့်သတ်

ိုင်းအရာ။ Ayeyarwaddy Resort & Villa Development Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုဥပဒေ နှင့်အညီ အတည်ပြုလျှောက်ထား လွှာတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Ayeyarwaddy Resort & Villa Development Co., Ltd.<br>- ဦးသက်လင်း<br>- ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၄၈-ပြင်၊ ဘူးကွဲကြီး-ပြင် ကွင်း၊ ဦးပိုင်အမှတ် N-၆၄၊ N-၆၇ ရှိမြေ ၂၇.၀၅ ဧက |
| ၃။ | မြေပိုင်ရှင်<br>အကျယ်အဝန်း<br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ဦးထွန်းအေး<br>- မြေဧရိယာ ၂၇.၀၅ ဧက<br>- -<br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ကနဦးနှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှု ကာလ | - ၂ နှစ် |

| | | US$ | ကျပ်သန်း | ရာခိုင်နှုန်း |
|---|---|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား | | | |
| | (က)ပြည်တွင်းမှထည့်ဝင်သည့်မတည် ငွေရင်းပမာဏ/ရာခိုင်နှုန်း | - | ၅၅၀၀.၀၀ | ၁၀၀ % |
| | (ခ)နိုင်ငံခြားမှယူဆောင်လာမည့်မတည် ငွေရင်းပမာဏ/ရာခိုင်နှုန်း | - | - | - |
| | **စုစုပေါင်း** | - | ၅၅၀၀.၀၀ | - |

| | | |
|---|---|---|
| ၇။ | အခြားတင်ပြချက် | (က) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာနှင့်စပ်လျဉ်း၍ လယ်ယာမြေအခြားနည်းအသုံးပြုခွင့် လယ-၃၀(ခ)၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့မှတ်တမ်း တို့ကို ပူးတွဲ တင်ပြထားပါသည်။<br>(ခ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ်နှင့် လုပ်ခလစာကိုအောက်ပါအတိုင်းတင်ပြထားပါသည်-<br>**စုစုပေါင်း ၂၇၆ ဦး** |

ကန့်သတ်

| | | |
|---|---|---|
| | | ပြည်တွင်း- ၂၇၉ ဦး(တစ်လလျှင် ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ၊အမြင့်ဆုံး လစာ မှာ ကျပ် ၂၅၀၀,၀၀၀ ဖြစ်ပါသည်။)<br>ပြည်ပ - ခန့်ထားခြင်းမရှိပါ။ |
| ၈။ | **စိစစ်တင်ပြချက်** | (က)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ လူနေအိမ်ခန်းအဆောက်အအုံ၊ စုပေါင်းပိုင် အဆောက်အအုံ တည်ဆောက် ရောင်းချခြင်း၊ ငှားရမ်းခြင်း လုပ်ငန်းသည် ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ စာရင်းတွင်ပါဝင်ပါသည်။<br>(ခ) တန်ဖိုးနည်းအိမ်ရာများ ဆောက်လုပ်ငှားရမ်းခြင်း လုပ်ငန်း (Building and leasing of the affordable housing)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ စာရင်းတွင်ပါဝင်ပါကြောင်း၊ စက်မှုဇုန်နှင့် ဆက်စပ်သည့် စုစုပေါင်းကြမ်းခင်း ဧရိယာ ၅၀,၀၀၀ စတုရန်းမီတာ ရှိသော လူနေအိမ်ခန်း အဆောက်အအုံများနှင့် အများပြည်သူ ဝယ်နိုင်စွမ်းရှိသော အိမ်ရာများ ဆောက်လုပ် ရောင်းချခြင်း လုပ်ငန်း ဖြစ်ပါက ဆောက်လုပ်ရေးဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည်ဖြစ်ပါသည်။<br>(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၅ (က) အရ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းပြုလုပ်ရန် လိုအပ်သည့် စီမံကိန်း အမျိုးအစားဖြစ်ခြင်း သို့မဟုတ် ဖြစ်နိုင်ချေရှိခြင်း ဖြစ်ပါက ကော်မရှင်သို့အဆိုပြုချက် တင်ပြရန် လိုအပ်မည်ဖြစ်ပါ သည်။<br>(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်း ဥပဒေ ၁၁၇ (ဂ) အရ ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ရန် မြေအသုံးချမှု ပြောင်းလဲခြင်းအတွက် အဆိုပြုချက်အား အတည်ပြုပေးမည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရ သို့မဟုတ် အခြားအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ ရယူသည့် ထောက်ခံစာ သို့မဟုတ် အလားတူစာရွက်စာတမ်း သို့မဟုတ် ခွင့်ပြုချက်တင်ပြပေးရန် လိုအပ်မည် ဖြစ်ပါသည်။<br>(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပုသိမ်ခရိုင်၊ ငွေဆောင် |

| | |
|---|---|
| | မြို့နယ်သည် ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသည့် ဒေသဇုန် (၂) တွင် ပါဝင်ပါသည်။<br>(စ) အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြလျှောက်ထားခြင်းမရှိပါ။<br>(ဆ) ပြည်ပမှ တင်သွင်းမည့်လုပ်ငန်းသုံးပစ္စည်း တင်ပြထားခြင်း မရှိပါ။ |

၇။ ကုမ္ပဏီမှ အောက်ပါအတိုင်း အဆင့်မြင့်အိမ်ရာများကို ဆောက်လုပ်ရောင်းချမည်ဖြစ်ပါသည်-

| အမျိုးအစား | အရေအတွက်(လုံး) |
|---|---|
| ပေ (၅၀× ၇၀) | ၇၂ |
| ပေ (၈၀× ၉၀) | ၅၈ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ သဘောထားမှတ်ချက်ပြန်ကြားလာခြင်း မရှိသေးပါ။

(ခ) **ဧရာဝတီတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန**မှ အဆင့်မြင့်အိမ်ရာစီမံကိန်း လုပ်ငန်းအနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း (EIA Procedure) အရ အခြေခံအဆောက်အအုံနှင့် ဝန်ဆောင်မှု ဖွံ့ဖြိုးရေးလုပ်ငန်းအမျိုးအစားဖြစ်ပြီးအသုံးပြုဧရိယာစတုရန်းမီတာ (၂၀၀၀၀၀) မှ (၅၀၀၀၀၀)အတွင်း ဆောင်ရွက်သွားမည်ဖြစ်သဖြင့် ကနဦးပတ်ဝန်းကျင်ဆန်း စစ်ခြင်း (Initial Environ mental Examination -IEE) ဆောင်ရွက်ရမည် ဖြစ်ပြီး အဆိုပါ ဆန်းစစ်ခြင်းရလဒ်ကို အခြေခံ၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြ အတည်ပြုချက် ရယူ၍ အကောင်အထည်ဖော် ဆောင်ရွက်ရန်နှင့် ငွေဆောင်ကမ်းခြေ၌ ရာသီမရွေး ရေချိုသောက်သုံးရေရရှိမှု ကန့်သတ်ချက်ရှိမှုကြောင့် ရေချိုသောက်သုံးရေ ရရှိနိုင်သရွေ့နည်းလမ်းများအားအရန်ထားရှိဆောင်ရွက်သင့်ပါကြောင်းမှတ်ချက်ပြုထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် Novotel Hotel Ayeyarwaddy Bank တွင် စာရင်းအမှတ် ၀၁၁၂၂၂၄၀၁၀၀၀၀၀၁၆၈ ဖြင့် Account ဖွင့်ထားကြောင်းတင်ပြထားပါသည်။

၁၀။ MEF International Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံဆောင်ရွက်မည့် အစီအစဉ်၊ CSR အစီအစဉ်များကိုတင်ပြထားပါသည်။

၁၁။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ လူနေအိမ်ခန်းအဆောက်အအုံ၊ စုပေါင်းပိုင် အဆောက်အအုံ တည်ထောင် ရောင်းချခြင်း၊ ငှားရမ်းခြင်း လုပ်ငန်းသည် ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ စာရင်းတွင်ပါဝင်ပါသည်။

(ခ) တန်ဖိုးနည်းအိမ်ရာများ ဆောက်လုပ်ငှားရမ်းခြင်း လုပ်ငန်း (Building and leasing of the affordable housing)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ဦးစားပေးမြင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ စာရင်းတွင် ပါဝင်ပါကြောင်း၊ စက်မှုဇုန်နှင့် ဆက်စပ်သည့် စုစုပေါင်းကြမ်းခင်း ဧရိယာ ၅၀,၀၀၀ စတုရန်းမီတာ ရှိသော လူနေအိမ်ခန်း အဆောက်အအုံများနှင့် အများပြည်သူ ဝယ်နိုင်




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

စာအမှတ်၊ ဧရက/အ-၁၀၇(အိမ်ရာ)/ရင်း(၃)/၂၀၁၇(၀၉၇)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၁၄ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Ayeyarwaddy Resort & Villa Development Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့် အိမ်ရာစီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ Ayeyarwaddy Resort & Villa Development Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၄၈-ပြင်၊ ဘူးကွဲကြီး-ပြင်ကွင်း၊ ဦးပိုင်အမှတ် N-၆၄၊ N-၆၇ ရှိမြေ ၂၇.၀၅ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ လယ်ယာမြေ အခြားနည်း အသုံးပြုခွင့် လယ-၃၀(ခ)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့မှတ်တမ်း တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၄၈-ပြင်၊ ဘူးကွဲကြီး-ပြင် ကွင်း၊ ဦးပိုင်အမှတ် N-၆၄၊ N-၆၇ ရှိမြေ ၂၇.၀၅ ဧကတွင် အဆိုပြု လုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ လုပ်ငန်းသက်တမ်း ကာလမှာ ကနဦး နှစ် ၅၀ ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဆောင်ရွက်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၂ နှစ်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်း ၅၅၀၀ ဖြစ်၍ အောက်ပါအတိုင်း ထည့်ဝင် မည်ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **ကျပ်(သန်းပေါင်း)** |
|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၅၅၀၀.၀၀ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | - |
| **စုစုပေါင်း** | **၅၅၀၀.၀၀** |

စွမ်းရှိသော အိမ်ရာများ ဆောက်လုပ် ရောင်းချခြင်း လုပ်ငန်း ဖြစ်ပါက ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်း ဥပဒေ ၁၁၇ (ဂ) အရ ရင်းနှီး မြှုပ်နှံမှုဆောင်ရွက်ရန် မြေအသုံးချမှု ပြောင်းလဲခြင်းအတွက် အဆိုပြုချက်အား အတည်ပြုပေးမည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရ သို့မဟုတ် အခြားအစိုးရဌာန၊ အစိုးရ အဖွဲ့အစည်းထံမှ ရယူသည့် ထောက်ခံစာ သို့မဟုတ် အလား တူစာရွက်စာတမ်း သို့မဟုတ် ခွင့်ပြုချက်တင်ပြပေးရန် လိုအပ် မည် ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပုသိမ်ခရိုင်၊ ငွေဆောင် မြို့နယ်သည် ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသည့် ဒေသဇုန် (၂) တွင် ပါဝင်ပါသည်။

(င) အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြ လျှောက်ထားခြင်း မရှိပါ။

(စ) ပြည်ပမှ တင်သွင်းမည့်လုပ်ငန်းသုံးပစ္စည်း တင်ပြထားခြင်း မရှိပါ။

**ဆုံးဖြတ်ရန်အချက်**

၁၂။ Ayeyarwaddy Resort & Villa Development Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၄)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၄၈-ပြင်၊ ဘူးကွဲကြီး-ပြင်ကွင်း၊ ဦးပိုင်အမှတ် N-၆၄၊ N-၆၇ ရှိမြေ ၂၇.၀၅ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

17/11/2017

ဥက္ကဋ္ဌ(ကိုယ်စား)
(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ဧရက/မ-Issue/ရင်း(၄)/၂၀၁၇(၀၉၉)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၁၅ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Ayeyarwaddy Development Public Co., Ltd. မှ ရေကြောင်း ထိန်းသိမ်းခြင်း (သောင်တူးဖော်ခြင်း) လုပ်ငန်းနှင့် တူးဖော်ရရှိသည့် နုံး/သဲများကို ပြည်ပသို့ တင်ပို့ရောင်းချခြင်း လုပ်ငန်းနှင့်စပ်လျဉ်း၍ တင်ပြလာခြင်းကိစ္စ**

၁။ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ပုသိမ်မြစ်ကြောင်းအတွင်း ရေကြောင်းထိန်းသိမ်းခြင်း(သောင်တူးဖော်ခြင်း)လုပ်ငန်းဆောင်ရွက်ခွင့်ရရှိထားသည့် Ayeyarwaddy Development Public Co., Ltd. မှ တူးဖော်ရရှိသည့် နုံး/သဲများကို ပြည်ပသို့ တင်ပို့ရောင်းချရန် Export လုပ်ငန်းလိုင်စင်ရရှိရေးအတွက် လုပ်ငန်းအမြန်ဆောင်ရွက်နိုင်ရေး ကူညီဆောင်ရွက်ပေးနိုင်ပါရန် တင်ပြလာခြင်းဖြစ်ပါသည်။

၂။ Ayeyarwaddy Development Public Co., Ltd. မှ ရေကြောင်း ထိန်းသိမ်းခြင်း (သောင်တူးဖော်ခြင်း) လုပ်ငန်းနှင့် တူးဖော်ရရှိသည့် နုံး/သဲများကို ပြည်ပသို့ တင်ပို့ရောင်းချခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်ရပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ ရေလမ်းကြောင်းများ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ရေလမ်းဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းသည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့်လုပ်ငန်း အမျိုးအစားဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်နိုင်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပါကြောင်း။

(ခ) တူးဖော်ရရှိသည့် နုံး/သဲများကို ပြည်ပသို့ တင်ပို့ရောင်းချခြင်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ ပို့ကုန်သွင်းကုန်လုပ်ငန်းများ ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုများကို စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၏ မူဝါဒအတိုင်းသာ ဆောင်ရွက်ရန်ဖြစ်ပါကြောင်း။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၅ (က) အရ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းပြုလုပ်ရန် လိုအပ်သည့် စီမံကိန်းအမျိုးအစားဖြစ်ခြင်း သို့မဟုတ် ဖြစ်နိုင်ချေရှိခြင်းဖြစ်ပါက ကော်မရှင်သို့ အဆိုပြုချက် တင်ပြရန် လိုအပ် မည်ဖြစ်ပါကြောင်း။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၄၄ အရ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း သည် ရင်းနှီးမြှုပ်နှံမှုတွင် သိသာထင်ရှားသည့် ပိုင်ဆိုင်မှုအကျိုးစီးပွားရှိခြင်း၊ အစိုးရဌာန၊ အစိုးရ အဖွဲ့အစည်းသည် ရင်းနှီးမြှုပ်နှံသူအား လုပ်ငန်းလုပ်ကိုင်ခွင့် ခွင့်ပြုထားခြင်း သို့မဟုတ် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် ရည်ရွယ်ထားခြင်းဖြစ်ပါက သက်ဆိုင်ရာ ဝန်ကြီး ဌာန မှ တစ်ဆင့် ကော်မရှင်သို့ အဆိုပြုချက်တင်ပြရမည်ပါကြောင်း။

၃။ သို့ဖြစ်ပါ၍ Ayeyarwaddy Development Public Co., Ltd. မှ ရေကြောင်း ထိန်းသိမ်းခြင်း (သောင်တူးဖော်ခြင်း) လုပ်ငန်းနှင့် တူးဖော်ရရှိသည့် နုံး/သဲများကို ပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထားနိုင်ပါကြောင်း၊ နုံး/သဲများကို ပြည်ပသို့ တင်ပို့ရောင်းချခြင်း နှင့်စပ်လျဉ်း၍ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၏ မူဝါဒအတိုင်းသာ ဆောင်ရွက်ရန်ဖြစ်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

15/11/2017

ဥက္ကဋ္ဌ(ကိုယ်စား)
(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ